လျှို့ဝှက်

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American Oncology Institute Myanmar Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Private Hospital (Health Care Services) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br>လုပ်ငန်းအမျိုးအစား | - American Oncology Institute Myanmar Co., Ltd.<br>- ဦးစိုးမြင့်<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Cancer Treatment Services Hyderabad Private Limited (အိန္ဒိယ) ၆၀%<br>- Great Health Care Co., Ltd. (မြန်မာ) ၄၀%<br>- Private Hospital (Health Care Services) |
| ၂။ | တည်နေရာ | - အမှတ်-၁၁၅၊ မြေတိုင်းရပ်ကွက်အမှတ်- ၄၈၊ မြေကွက်အမှတ်-၇/ဓ၊ လွတ်လပ်ရေးလမ်း၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၂.၃၁၆ ဧကအနက်မှ ၀.၉၂၆၄ ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br>နှစ်စဉ်မြေငှားရမ်းခ<br><br>မြေ/အဆောက်အဦငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - Great Health Care Co., Ltd.<br>- ၀. ၉၂၆၄ ဧက (၃,၇၄၉.၀၀၇၆ စတုရန်းမီတာ)<br>-<br>- တစ်နှစ်လျှင်အမေရိကန်ဒေါ်လာ ၃၄,၀၀၀ (တစ်စတုရန်း မီတာလျှင် တစ်နှစ် အမေရိကန်ဒေါ်လာ ၉.၀၆၉ )<br>- ၅၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁၈ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၁၀.၇၀ သန်း |

| **ထည့်ဝင်မည့် အမျိုးအစား** | **နိုင်ငံခြား (၆၀ %)** | **မြန်မာ (၄၀%)** | **စုစုပေါင်း (US$ သန်း)** |
|---|---|---|---|
| ငွေသား | ၁.၂၀ | ၀.၈၀ | ၂.၀၀ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပ) | ၄.၂၀ | ၂.၈၀ | ၇.၀၀ |
| မြေ/အဆောက်အအုံငှားရမ်းခ | ၁.၀၂ | ၀.၆၈ | ၁.၇၀ |
| **စုစုပေါင်း** | **၆.၄၂** | **၄.၂၈** | **၁၀.၇၀** |

လျှို့ဝှက်

**၇။ ဝန်ဆောင်မှုနှင့်စျေးနှုန်း**

- ပြည်တွင်း ၁၀၀%

| | **ဝန်ဆောင်မှု အရေအတွက်** | **ဝန်ဆောင်မှုစျေးနှုန်း (ကျပ်)** |
|---|---|---|
| Laboratory | ၇,၃၀၀ | ၂၂,၉၂၉ |
| PET/CT | ၅၇၅ | ၄၁၈,၄၆၂ |
| CT | ၁,၅၀၀ | ၂၀၉,၂၃၁ |
| Mammography | ၆၀၀ | ၂၄,၀၆၂ |
| ULtrasound | ၃,၀၀၀ | ၂၅,၁၀၈ |
| MRI | ၁၂၀ | ၁၅၆,၉၂၃ |

**၈။ ဝန်ထမ်းခန့်ထားမှု**

| | **ပြည်တွင်း** | **ပြည်ပ** |
|---|---|---|
| **ဦးရေ** | ၁၄၂ ဦး | ၂၃ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၆,၃၀၀,၀၀၀ | US$ ၁၀,၀၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၃၀၀,၀၀၀ | US$ ၄၆၂ |

**၉။ အခြားတင်ပြချက်များ**

- အတည်ပြုလျှောက်ထားလွှာနှင့်အတူ American Oncology Institute Myanmar Co.,Ltd. ၏အမည်စစ်(မိတ္တူ)၊ MOA နှင့် AOA(မူကြမ်း)၊ မြေငှားရမ်းခြင်းသဘောတူ စာချုပ်(မူကြမ်း)၊ မြေဆိုင်ရာအထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။
- ငွေကြေးအထောက်အထားအဖြစ် Great Health Care Co., Ltd. အမည်ဖြင့် Kanbawza ဘဏ်၌ ၅-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၀၆,၃၇၀,၁၁၆.၀၀ ရှိကြောင်းတင်ပြထားပါသည်။
- ဆေးရုံသုံးစက်ပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**၁၀။ စိစစ်တင်ပြချက်**

- ပုဂ္ဂလိဆေးရုံဝန်ဆောင်မှုလုပ်ငန်း၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။
- ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်း လိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက - ၅(အ)/အ-၀၂၃/၂၀၁၈(၂၂၆)

ရက်စွဲ၊ ၂၀၁၈ခုနှစ်၊ ဇူလိုင် လ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American Oncology Institute Myanmar Co., Ltd. မှ Private Hospital (Health Care Services) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American Oncology Institute Myanmar Co., Ltd. မှ မြေတိုင်းရပ်ကွက်အမှတ်-၄၈၊ မြေကွက်အမှတ်-၇/ဓ၊ လွတ်လပ်ရေးလမ်း၊ (င)ရပ်ကွက်၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၃၁၆ ဧကအနက်မှ ၀.၉၂၆၄ ဧက ပေါ်တွင် Private Hospital (Health Care Services) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာဖြင့် တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ American Oncology Institute Myanmar Co.,Ltd. ၏အမည်စစ်(မိတ္တူ)၊ MOA နှင့် AOA(မူကြမ်း)၊ မြေငှားရမ်းခြင်းသဘောတူ စာချုပ် (မူကြမ်း)၊ မြေဆိုင်ရာအထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ငှားရမ်းမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၀.၉၂၆၄ ဧက (၃,၇၄၉.၀၀၇၆ စတုရန်းမီတာ) အား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ US$ ၃၄,၀၀၀.၀၀ ဖြစ်ပြီး (၁)နှစ် တစ်စတုရန်းမီတာလျှင် US$ ၉.၀၆၉ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၁၈ လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၁၀.၇၀ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မည့် အမျိုးအစား | နိုင်ငံခြား(၆၀%) US$ (သန်း) | မြန်မာ(၄၀%) US$ (သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | ၁.၂၀ | ၀.၈၀ | ၂.၀၀ |
| စက်နှင့် စက်ကရိယာပစ္စည်း (ပြည်ပ) | ၄.၂၀ | ၂.၈၀ | ၇.၀၀ |
| မြေငှားရမ်းခ | ၁.၀၂ | ၀.၆၈ | ၁.၇၀ |
| စုစုပေါင်း | **၆.၄၂** | **၄.၂၈** | **၁၀.၇၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း (၁၄၂) ဦးနှင့် ပြည်ပဝန်ထမ်း(၂၃) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀၊ အမြင့်ဆုံးလစာမှာ ကျပ် ၆,၃၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၄၆၂၊ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၀,၀၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းသည် ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်းကို ပြည်တွင်းတွင် ၁၀၀% ဝန်ဆောင်မှုပေးမည်ဖြစ်ပါသည်။ ဝန်ဆောင်မှုအရေအတွက်နှင့် ဝန်ဆောင်ခဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ဝန်ဆောင်မှုအမျိုးအစားများ | ဝန်ဆောင်မှု အရေအတွက် | ဝန်ဆောင်မှု ဈေးနှုန်း (ကျပ်) |
|---|---|---|---|
| (က) | Laboratory | ၇,၃၀၀ | ၂၂,၉၂၉ |
| (ခ) | PET/CT | ၅၇၅ | ၄၁၈,၄၆၂ |
| (ဂ) | CT | ၁,၅၀၀ | ၂၀၉,၂၃၁ |
| (ဃ) | Mammography | ၆၀၀ | ၂၄,၀၆၂ |
| (င) | ULtrasound | ၃,၀၀၀ | ၂၅,၁၀၈ |
| (စ) | MRI | ၁၂၀ | ၁၅၆,၉၂၃ |

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားခဲ့ပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အစည်းအဝေးအမှတ်စဉ်(၂၄/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၅၀)အရ ကန့်ကွက်ရန်မရှိပါကြောင်း **နောက်ဆက်တွဲ-က** ဖြင့် ပြန်ကြားခဲ့ပါသည်။

(ခ) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနမှ ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်၊ ဆေးရုံအင်္ဂါရပ်များနှင့် ညီညွတ်ရန်၊ ဆောင်ရွက်မည့် ကျန်းမာရေးလုပ်ငန်းအမျိုးအစားအလိုက် လိုင်စင်လျှောက်ထားရန်၊ ကင်ဆာရောဂါစမ်းသပ်စစ်ဆေးကုသရာတွင် အသုံးပြုသည့် စက်ပစ္စည်းကိရိယာများ၊ ရေဒီယိုသတ္တိကြွပစ္စည်း၊ ရောင်ခြည်ထုတ်ကိရိယာများ အတွက် အဏုမြူစွမ်းအင်ဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်များ၊ စံနှုန်းများနှင့်ကိုက်ညီရန်၊ နိုင်ငံခြားသားဆရာဝန်များပါရှိပါက မြန်မာနိုင်ငံဆေးကောင်စီ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း **နောက်ဆက်တွဲ-ခ** ဖြင့် ပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Great Health Care Co., Ltd. အမည်ဖြင့် Kanbawza ဘဏ်၌ ၅-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၀၆,၃၇၀,၁၁၆.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) ပုဂ္ဂလိဆေးရုံဝန်ဆောင်မှုလုပ်ငန်း၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် American Oncology Institute Myanmar Co., Ltd. မှ Private Hospital (Health Care Services) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ (က)




တိုင်းဒေသကြီးအစိုးရအဖွဲ့
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး

| ဝင်စာအမှတ် | M4-0395 |
|---|---|
| ရက်စွဲ | 20.6.18 |

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇွန် လ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃.၂.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ အ-၀၂၃/၂၀၁၈(၀၄၇-ဃ)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အိန္ဒိယနိုင်ငံ Cancer Treatment Services Hyderabad Private Limited မှ ၆၀ %နှင့် မြန်မာနိုင်ငံ Great Health Care Company Limited မှ ၄၀ % ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် American Oncology Institute Myanmar Co.,Ltd ထည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ သဃ်န်းကျွန်းမြို့နယ်၊ (ဂ)ရပ်ကွက်၊ လွတ်လပ်ရေးလမ်း၊ မြေကွက်အမှတ် -၇/ဓ၊ မြေတိုင်းရပ်ကွက်အမှတ်-၄၈ ရှိ မြေဧရိယာ ၀.၉၂၆၄ ဧကပေါ်တွင် Private Hospital (Health Care Services) လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၄.၆.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၂၄/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၅၀)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

18.6.18.

ဝန်ကြီးချုပ် (ကိုယ်စား)
( ဇော်အေးမောင်၊ ရခိုင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီး
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သဃ်န်းကျွန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
American Oncology Institute Myanmar Co.,Ltd
လက်ခံစာတွဲ/မျှောစာတွဲ

D/2018/Cabinet 24(8)

နောက်ဆက်တွဲ (ခ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၁မခ(က)၂၀၁၈(၈၄၃)/ ၆၀၁၃
ရက်စွဲ၊၂၀၁၈ ခုနှစ်၊ ဧပြီလ( ၁၂ )ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းအပေါ် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃-၂-၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက- ၅(အ)/အ-၀၂၃/၂၀၁၈(၀၄၇-၈)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အိန္ဒိယနိုင်ငံ Cancer Treatment Services Hyderabad Private Limited မှ ၆၀% နှင့် မြန်မာနိုင်ငံ Great Health Care Company Limited မှ ၄၀% ထည့်ဝင်ပြီး မြန်မာနိုင်ငံ American Oncology Institute Myanmar Co., Ltd တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ သဃ်န်းကျွန်းမြို့နယ်တွင် Private Hospital (Health Care Services)လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်နှင့် သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်၊ ဆေးရုံအင်္ဂါရပ်များနှင့်ညီညွှတ်ရန်၊ ဆောင်ရွက်မည့် ကျန်းမာရေးလုပ်ငန်းအမျိုးအစားအလိုက် လိုင်စင်လျှောက်ထားရန်၊ ကင်ဆာရောဂါစမ်းသပ်စစ်ဆေးကုသရာတွင် အသုံးပြုသည့် စက်ပစ္စည်းကိရိယာများ၊ ရေဒီယိုသတ္တိကြွပစ္စည်း၊ ရောင်ခြည်ထုတ်ကိရိယာများအတွက် အဏုမြူစွမ်းအင်ဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်များ၊ စံနှုန်းများနှင့်ကိုက်ညီရန်၊ နိုင်ငံခြားသားဆရာဝန်များပါရှိပါက မြန်မာနိုင်ငံဆေးကောင်စီ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(စိန်ဝင်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန

D: NCO. Ministry 2018